




ပုံစံ(မနသ-၂)

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၁၀၇/၉၇ ၁၉၉၇ ခုနှစ်၊ ဒီဇင်ဘာ လ ၂၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး အောင်ခိုင်

(ခ) အဘအမည် ဦး သာထွန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် အိပ်ချ်/ အဂ်ျီအန်င် - ၀၀၇၀၀၆

(ဃ) နေရပ်လိပ်စာ အမှတ် ၆၁၅ (ဒီ)၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ခရစ်စတယ်လ်ဂါးမင့်အင်န် နစ်တင်းအင်ဒတ်စ်ထရီကုမ္ပဏီလီမိတက် (Krystal Garment & Knitting Industry Co., Ltd. )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား အထည်ချုပ်နှင့်သိုး မွေးထည် ယက်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ် (၄၂)၊ မြေတိုင်းရပ်ကွက်အမှတ် ဇုန်-၃၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၄၁ သန်း
(ကျပ် လေးဆယ့်တစ်သန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Tel : 272052, 272870, 272912
Fax : 095-01-282101

စာအမှတ်၊ ရက-၁/မ-၁၆၉/၉၇ (၁၈၅၁)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ၁၂ ရက်။

အကြောင်းအရာ။ **လုပ်ငန်းသုံးအတွက် မော်တော်ယာဉ်များ တင်သွင်းရန် ကိစ္စ။**

၁။ ခရစ်စတယ် ဂါးမင့် အင်န် နစ်တင်း အင်ဒတ်စ်ထရီ ကုမ္ပဏီ လီမိတက် (Krystal Garment & Knitting Industry Co., Ltd.) မှ အထည်ချုပ်နှင့် သိုးမွေးထည် ယက်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ လုပ်ငန်းအတွက် မော်တော်ယာဉ်များ တင်သွင်းမှုနှင့်ပတ်သက်၍ တည်ဆောက်ရေး ကာလ အတွင်း Saloon 1(one) No. and Truck 1(one) No. တို့ကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် လည်းကောင်း၊ လုပ်ငန်း စတင်ဆောင်ရွက်သည့် အချိန်တွင် Pick-up 1(one) No. and Truck 1(one) No. တို့ကို အခွန်အကောက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ဖြင့် လည်းကောင်း တင်သွင်းခွင့်ပြုကြောင်းနှင့် တင်သွင်းမည့် စက်ပစ္စည်းများ စာရင်းများတွင် Air Conditioner 12 Units ကို တင်သွင်းခွင့် ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါဆုံးဖြတ်ချက်ကိုလိုအပ်သလို ဆောင်ရွက်နိုင်ရန်နှင့်မော်တော်ယာဉ်များ တင်သွင်းရာတွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ သွင်းကုန်လိုင်စင် လျှောက်ထား ရယူရန် လိုအပ်ကြောင်း အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

အုပ်ချုပ်မှု ဒါရိုက်တာ
ခရစ်စတယ် ဂါးမင့် အင်န် နစ်တင်း အင်ဒတ်စ်ထရီ ကုမ္ပဏီ လီမိတက်။

မိတ္တူကို -
(၁) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
(၂) ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။
(၃) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ် (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန)။
(၄) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
(၅) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
(၆) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၅၆ /၉၇
ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ နတ်တော် လပြည့်ကျော် ၁၂ ရက်။
(၁၉၉၇ ခုနှစ်၊ ဒီဇင်ဘာလ ၂၆ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော ခရစ်စတယ်လ် ဂါးမင့် အင်န် နစ်တင်း အင်ဒတ်စ်ထရီ ကုမ္ပဏီ လီမိတက် (Krystal Garment & Knitting Industry Co., Ltd.) တည်ထောင်၍ ဦးအောင်ခိုင် နှင့် ဦးမိုးဝင်းမောင် အမည်ဖြင့် မြေအသုံးပြုခွင့် ရရှိထားသော မြို့ရွာ နှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် စက်မှုဇုန်(၃)၊ မြေကွက်အမှတ် (၄၂)ရှိ မြေ (၂.၀၁၁)ဧက (၈၁၃၈.၂၄ စတုရန်းမီတာ) ကျယ်ဝန်းသော မြေနေရာကို ငှါးရမ်း၍ အထည်ချုပ် နှင့် သိုးမွေးထည် ယက်လုပ်ခြင်း လုပ်ငန်း (Garment & Knitting Factory) စက်ရုံ တည်ဆောက်ပြီး ကုန်ကြမ်း ဝယ်ယူ၍ ချုပ်လုပ်ခြင်း နှင့် စီအမ်ပီ အခစား စံနစ်အရ ချုပ်လုပ်ခြင်းဖြင့် ပြည်တွင်းပြည်ပ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၅-၁၂-၉၇) နေ့တွင် ကျင်းပပြုလုပ် ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘော တူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့် အညီ (၂၃-၁၂-၉၇) နေ့တွင် ကျင်းပ ပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ အဖွဲ့၏ (၆/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ခရစ်စတယ်လ် ဂါးမင့် အင်န် နစ်တင်း အင်ဒတ်စ်ထရီ ကုမ္ပဏီ လီမိတက် (Krystal Garment & Knitting Industry Co., Ltd.) အား အထည်ချုပ် နှင့် သိုးမွေးထည် ယက်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၀၈/၉၇ ကို ထုတ်ပေး လိုက်သည်။

၂။ ခရစ်စတယ်လ် ဂါးမင့် အင်န် နစ်တင်း အင်ဒတ်စ်ထရီ ကုမ္ပဏီ လီမိတက် (Krystal Garment & Knitting Industry Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက် သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေ ပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

(ဃ) အထက် အပိုဒ် (က) ပါ နည်းလမ်းများဖြင့် ပြည်ပမှ ပစ္စည်းများ တင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ ပြည်ပတင်ပို့မှုမှ ရရှိသည့် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရန်။

၄။ ခရစ်စတယ်လ် ဂါးမင့် အင်န် နစ်တင်း အင်ဒတ်စ်ထရီ ကုမ္ပဏီ လီမိတက် (Krystal Garment & Knitting Industry Co., Ltd.) ကို မြန်မာ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ မှတ်ပုံတင်နိုင်ရန် အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့် အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၅။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေအငှားချထားသူ ဦးအောင်ခိုင်၊ ဦးမိုး ဝင်းမောင် နှင့် အငှား ချထားခြင်း ခံရသူ ခရစ်စတယ်လ် ဂါးမင့် အင်န် နစ်တင်း အင်ဒတ်စ်ထရီ ကုမ္ပဏီ လီမိတက် (Krystal Garment & Knitting Industry Co., Ltd.) တို့ ချုပ်ဆိုမည့် မြေငှါး သဘောတူစာချုပ် လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ (၅) စောင်ကို ဤ ကော်မရှင်သို့ ပေးပို့ တင်ပြရမည်။

၆။ အဆိုပါ မြေငှားရမ်းခြင်း၏ သက်တမ်းကာလမှာ စာချုပ် စတင် အကျိုးသက်ရောက်သည့် နေ့မှစ၍ ကနဦး နှစ်(၃၀) ဖြစ်ပြီး၊ ထိုသက်တမ်းကုန်ဆုံးပါက တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၂)ကြိမ်အထိ တိုးမြှင့်

ငှားရမ်းနိုင်ရေး အတွက် အငှားချထားသူ နှင့် အငှားချထားခြင်း ခံရသူတို့ နှစ်ဦးနှစ်ဘက် ညှိနှိုင်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူ ခွင့်ပြုချက်ကို ရယူရမည်ဖြစ်သည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ ခရစ်စတယ်လ် ဂါးမင့် အင်န် နစ်တင်း အင်ဒတ်စ်ထရီ ကုမ္ပဏီ လီမိတက် (Krystal Garment & Knitting Industry Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၉။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၀။ ခရစ်စတယ်လ် ဂါးမင့် အင်န် နစ်တင်း အင်ဒတ်စ်ထရီ ကုမ္ပဏီ လီမိတက် (Krystal Garment & Knitting Industry Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။

၁၁။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

၁၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( မိုးလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၁၆၉/၉၇ (ခ၇၂၂)
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ဒီဇင်ဘာလ ၂၆ ရက်။

မြန့်ဝေခြင်း–
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၅။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၆။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၇။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၈။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၉။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၀။ အလုပ်သမား ဝန်ကြီးဌာန။
၁၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၃။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ခရစ်စတယ်လ် ဂါးမင့် အင်န် နစ်တင်း အင်ဒတ်စ်ထရီ ကုမ္ပဏီ လီမိတက် **(Krystal Garment & Knitting Industry Co., Ltd.)**။

အမိန့်အရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

စာအမှတ်၊ ရက-၁/မ- ၁၆၅/၉၉ ( )
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဖေဖော်ဝါရီလ ရက်။

အမှာစာ

အကြောင်းအရာ။ ။ ဒဂုံဧကဘယ်လ် ကော်မန်ဝှဲန်း ဘင်နှင့် ဂျွန်းဘင်ဒေတာစီတာရီ ကုမ္ပဏီ
လီမိတက်မှ လုပ်ငန်းဆောင်ရွက်ရန် ထုတ်ပေးထားသည့် ခွင့်ပြုမိန့်
အားပြန်လည်ရုပ်သိမ်း ခွင့်ပြုရန်ပြောင်ကြားခြင်းကိစ္စ။

၁။ ၁၉၉၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၈ ရက်၊ ( သောကြာ ) နေ့တွင်ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ပါ~~မြန်မာနိုင်ငံ~~ အစည်းအဝေး အမှတ်စဉ် ( ၁၈/၉၉ ) မှတ်တမ်းမှ ကောက်နုတ်ချက် မိတ္တူမှန် မေခင်ကိုပူးတွဲလျက် ဆောင်ရွက်နိုင်ရန် ပေးပို့ပါသည်။

အတွင်းရေးမှူး ( ကိုယ်စား )
( မေခင်မေခင်ဦး၊ ဒုတိယအတွင်းရေးမှူး )။

ဝန်ကြီး
နိုင်ငံခြားမြန်မာ ရင်းနှီးမြှုပ်နှံမှုကော်မတီ ဥက္ကဋ္ဌ မှတ်ရေး
ဟုံ့ငယ်.

မိတ္တူကို — ဗဟိုရေကျော်ဦးမိုးကော
ဒဂုံဧကဘယ်လ် ကော်မန်ဝှဲန်း ဘင်နှင့် ဂျွန်းဘင်ဒေတာစီတာရီ
ကုမ္ပဏီလီမိတက်.

သို့ ဖြစ်ပါ၍အောက်ဖော်ပြပါစာရင်းများအတိုင်းမူလခွင့်ပြုမိန့် ဖြင့်ချုပ်ဆိုထားခဲ့သောစာရွက်စာတမ်းများ

အားလုံးကိုပါတပါတည်းမြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံးသို့ တင်ပြအပ်နှံလိုက်ပါသည်။

(က) မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ (၂၆-၁၂-၉၇) နေ့ စွဲပါခွင့်ပြုမိန့် အမှတ် (မနသ-၁၀ [illegible] /၉၅) မူရင်း၊

(ခ) မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ (၂၆-၁၂-၉၇) နေ့ စွဲပါအမိန့် ကြော်ငြာစာအမှတ် (၅[illegible]/၉၅) မူရင်း၊

(ဂ) Krystal Garment & Knitting Industry Co., Ltd အမည်ဖြင့်ခွင့်ပြုထားသောမြန်မာနိုင်ငံ[illegible]ရင်းနှီး မြှုပ်နှံသူများ၏အဆိုပြုချက်မူရင်း၊

(ဃ) Krystal Garment & Knitting Industry Co., Ltd နှင့် Atlas 2000 Co., Ltd. တို့ ချုပ်ဆိုထားသော Deferred Payment Loan Agreement(Draft) မူရင်း၊

(င) Krystal Garment & Knitting Industry Co., Ltd အမည်ဖြင့်မြေပိုင်ရှင်ဦးအောင်ခိုင်နှင့်[illegible] တို့ ချုပ်ဆိုခဲ့သောမြေငှားစာချုပ်။

(စ) မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂-၁-၉၈) ရက်စွဲပါစာအမှတ် (ရကာ-၁/မ-၁၆[illegible](၁၀၇၁)) ပါ လုပ်ငန်းသုံးအတွက်မော်တော်ယာဉ်များတင်သွင်းခွင့်မူရင်း။

(ဆ) မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅-၁၂-၉၈) ရက်စွဲပါစာအမှတ် (ရကာ-၇/မ-၄၆၇/[illegible](၆၂၂၈)) ဖြင့်ခွင့်ပြုထားသော Krystal Garment & Knitting Industry Co., Ltd ၏ Deferred Payment Purchase System ဖြင့်ချုပ်ဆိုသည့် ကုမ္ပဏီပြောင်းလဲခွင့်ပြုအမိန့် ။

(ဇ) မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆-၄-၉၉) ရက်စွဲပါစာအမှတ် (ရကာ-၇/မ-၄၆၇/၉[illegible](၁၁၂၈)) ဖြင့်ခွင့်ပြုထားသောမှဆောက်လုပ်ရေးလုပ်ငန်းကာလသက်တမ်းတိုးမြှင့်ခွင့်ပြုမိန့် ။

လေးစားစွာဖြင့်

U Aung Khine
Managing Director
Krystal Industries Co., Ltd.

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Fax: 095-01-282101

တယ်လီဖုန်း - ၂၇၂၈၁၂၊ ၂၇၂၁၅၉၊ ၂၇၂၃၈၁။


စာအမှတ် ရက-၁/မ-၄၅၂/၉၉(၅၁၉၇-၇)၊

ရက်စွဲ၊ ၁၉၉၉-ခုနှစ်၊ စက်တင်ဘာလ ၁၈ ရက်။

အကြောင်းအရာ။ ။ <u>သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ။</u>

ရည်ညွှန်းချက်။ ။ ခရစ်စတယ်လ် စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက်၏ ၇-၉-၉၉ နေ့စွဲပါစာ။

၁။ ခရစ်စတယ်လ် စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း လှိုင်သာယာမြို့နယ် စက်မှုဇုန်၊ မြေတိုင်း ရပ်ကွက်အမှတ်ဇုန် (၃)၊ မြေကွက်အမှတ်(၄၂) ရှိ ၂.၀၁၁ ဧကရှိအကျယ်အဝန်းရှိသော မြေနေရာတွင် သစ်အခြေခံပရိဘောဂ စက်ရုံတည်ဆောက်ပြီး သစ်အခြေခံ တဝက်တပျက်နှင့် အချောထည်ပရိဘောဂများ ၊ ကြမ်းခင်းတုံးများ ၊ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အထက်ရည်ညွှန်းပါစာဖြင့် ဤကော်မရှင်သို့ တင်ပြလျှောက်ထားလာပါသည်။ (ပူးတွဲ)

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း (၃) အပိုဒ် (၁၁) ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသဖြင့် အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန်နှင့် ယင်းနေရာတွင် အဆိုပြုလုပ်ငန်း ဆောင်ရွက်နေခြင်း ရှိ-မရှိ ပြန်ကြားပေးပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲ - (၁) အဆိုပြုချက်

(၂) မြေအထောက်အထား

တွဲဖက်အတွင်းရေးမှူး (ကိုယ်စား)

[ စိစိဝင်း ၊ ညွှန်ကြားရေးမှူး ]

<u>ညွှန်ကြားရေးမှူးချုပ်၊</u>

<u>မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန။</u>

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Fax: 095-01- 282101

တယ်လီဖုန်း - ၂၇၂၉၁၂၊ ၂၇၂၁၅၉၊ ၂၇၂၃၉၁။


စာအမှတ်၊ ရက - ၁ / မ - ၄၅၂ / ၉၉ (၅၁၉၇ ... )

ရက်စွဲ၊ ၁၉၉၉ ခုနှစ် စက်တင်ဘာလ ၂၈ ရက်။

အကြောင်းအရာ။ ။ <u>သဘောထား မှတ်ချက် တောင်းခံခြင်း ကိစ္စ ။</u>

ရည်ညွှန်းချက်။ ။ ခရစ်စတယ်လ်စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက်၏ (၇-၉-၉၉) နေ့စွဲပါစာ။

၁။ ခရစ်စတယ်လ်စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်၊ အမှတ်ဇုန် (၃)၊ မြေကွက်အမှတ် ( ၄၂ )ရှိ ၂၃၁၁ ဧကအကျယ်အဝန်း ရှိသော မြေနေရာတွင်သစ်အခြေခံ ပရိဘောဂစက်ရုံတည်ဆောက်ပြီး သစ်အခြေခံတဝက်တပျက်နှင့်အချောထည်ပရိဘောဂများ၊ ကြမ်းခင်းတုံးများ၊ ထုတ်လုပ်ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အတွက်ရည်ညွှန်းပါစာဖြင့် ကော်မရှင်သို့တင်ပြ လျှောက်ထားလာပါသည်။ ( ပူးတွဲ )

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း ( ၃ )၊ အပိုဒ် ၁၁ ပါပြဋ္ဌာန်းချက်များ နှင့်အညီအဆိုပြုချက်ကိုစိစစ်ရာတွင်သက်ဆိုင်ရာအဖွဲ့အစည်းများ၏သဘောထားများကို တောင်းခံရယူရန်လိုအပ်ပါသဖြင့်အဆိုပြုချက်ပါလုပ်ငန်းနှင့်စပ်လျဉ်း၍သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲ - ( ၁ ) အဆိုပြုချက်
( ၂ ) ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များနှင့်ပတ်သက်၍ တွက်ချက်မှု ဇယားများ
( ၃ ) Deferred Payment Loan Agreement (Draft)
( ၄ ) မြေငှားသဘောတူစာချုပ် ( မူကြမ်း )
( ၅ ) မြေအထောက်အထား
( ၆ ) ငွေရေးကြေးရေး အထောက်အထား

တွဲဖက်အတွင်းရေးမှူး (ကိုယ်စား)
( စိုးဝင်း ၊ ညွှန်ကြားရေးမှူး )

<u>သစ်တောရေးရာဝန်ကြီးဌာန။</u>

မိတ္တူကို - မြန်မာ့သစ်လုပ်ငန်း ။

* အေး * ၁၀ - ၉ - ၉၉

ကော်မရှင်အစည်းအဝေး ၁၇/၉၉
၈-၁၀-၉၉

အကြောင်းအရာ။ ။ ခရစ်စတယ်လ်ဂါး မင်းအောင်နိန်စ်တင်း အင်ဒတ်စ်ထရီကုမ္ပဏီ လီမိတက်မှ လုပ်ငန်း ဆောင်ရွက်ရန်ထုတ်ပေးထားသည့် ခွင့်ပြုမိန့်အား ပြန်လည်အပ်နှံခွင့်ပြုပါရန် လျှောက်ထားခြင်း ကိစ္စ။

၁။ ခရစ်စတယ်လ်ဂါး မင်းအောင်နိန်စ်တင်း အင်ဒတ်စ်ထရီကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြေကွက်အမှတ် ( ၄၂ ) မြေတိုင်း ရပ်ကွက်အမှတ်ဒုန်-၃၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့တွင် အထည်ချုပ်နှင့်သိုး မွေးထည်ယက်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ ( ၂၆-၁၂-၉၇ ) နေ့တွင်ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၀၈/၉၇ ဖြင့်လုပ်ကိုင်ခွင့်ပြု ခဲ့ပါသည်။

၂။ ယင်းကုမ္ပဏီသည် ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်အတွက် မူလသဘောတူညီချက် ရယူထားသော ပြည်ပကုမ္ပဏီများမှ စီးပွားရေး အကြပ်အတည်းများ ကြောင့် ၎င်း တို့၏အမှာစာများကို ရုပ်သိမ်းခဲ့ခြင်း ကြောင့်လည်း ကောင်း၊ တည်ဆောက်ပြီး လည် ပတ်နေသော ဝက်ရုံလုပ်ငန်းများ နှင့်သာဆက်လက် ဆောင်ရွက်လိုသော ကြောင့်လည်း ကောင်း၊ ပြည်ပကုမ္ပဏီများ မှ ရှေ့ဆိုင်း ချေး ငွေဖြင့် ဝက်များ တင်သွင်း မည့်ရန် ရည်ရွယ်ချက်မှာ အထက်ပါအကြောင်း များ ကြောင့် ဆောင်ရွက်နိုင်ခြင်းမရှိခဲ့ပါ။ ထို့ပြင်ယင်း နေရာတွင် ခရစ်စတယ်လ်စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်အမည်ဖြင့်သစ်အခြေခံစက်မှု လုပ်ငန်း ဆောင်ရွက်လိုသောကြောင့် ကော်မရှင်သို့ ခွင့်ပြုမိန့်ပြန်လည်အပ်နှံလာပါသည်။

၃။ ထို့ပြင်အဆိုပါခွင့်ပြုမိန့်ဖြင့် ဝက်ပစ္စည်း များ၊ ကုန်ကြမ်းပစ္စည်း များ နှင့် မော်တော်ယာဉ်များတင်သွင်း ခဲ့ခြင်း မရှိကြောင်း တင်ပြထား ပါသည်။

၄။ သို့ဖြစ်ပါ၍ကုမ္ပဏီမှ ကော်မရှင်၏ ခွင့်ပြုမိန့် ( မူရင်း ) နှင့်အတူကော်မရှင် ၏အမိန့် ကြော်ငြာစာ မော်တော်ယာဉ်တင်သွင်း ခွင့်စာနှင့် Deferred Payment Loan Agreement ( Draft ) - မူရင်း တို့ကိုပြန်လည်အပ်နှံလာသည့်အတွက်လုပ်ငန်း ဖျက်သိမ်း ခြင်း ကိုမှတ်တမ်း တင်နိုင်ပါရန်တင်ပြအပ်ပါသည်။



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ ( မနသ - ၁ )

## မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
## ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ)နှင့် ပုဒ်မ ဂ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ် ။ ၁ရဟ/၉၉/ရမ - ၀၀၁
ရက်စွဲ ။ ၁၉၉၉ခုနှစ်၊ စက်တင်ဘာလ ( ၇ ) ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကို ဖော်ပြလျှောက်ထား အပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏-

| | | |
|---|---|---|
| (က) | အမည် | ဦးအောင်ခိုင် |
| (ခ) | အဘအမည် | ဦးသာထွန်း |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | အိပ်ခ်ျ/အာဂျီအန်င် ၀၀၇၀၀၆ |
| (ဃ) | နေရပ်လိပ်စာ | အမှတ် ၆၁၅ (ဒီ)၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန် |
| (င) | လူမျိုး၊ ဘာသာ | ဗမာ၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | ခိုင်စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | ကုန်ထုတ်လုပ်ငန်း |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ် ၆၇၊ သုမင်္ဂလာအိမ်ယာ၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်။ |

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါက၊ ဖက်စပ်ပြုလုပ်မည့်သူများ၏-

| | | |
|---|---|---|
| (က) | အမည် | - |
| (ခ) | အဘအမည် | - |
| (ဂ) | နိုင်ငံသား၊အမျိုးသားမှတ်ပုံတင်အမှတ် | - |
| (ဃ) | နေရပ်လိပ်စာ | - |
| (င) | လူမျိုး၊ဘာသာ | - |
| (စ) | အဖွဲ့အစည်းအမည် | - |
| (ဆ) | လုပ်ငန်းအမျိုးအစား | - |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | - |

၃။ ရင်းနှီးမြှုပ်နှံလိုသည့်လုပ်ငန်းအမျိုးအစား–

| | | |
|---|---|---|
| (က) | ကုန်ထုတ်လုပ်မှုလုပ်ငန်း | သစ်အခြေခံ တဝက်တပျက်နှင့် အချောထည်ပရိဘောဂများ၊ ကြမ်းခင်းတုံးများ ထုတ်လုပ်ခြင်းလုပ်ငန်း |
| (ခ) | ဝန်ဆောင်မှုလုပ်ငန်း | – |

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ–

| | | |
|---|---|---|
| (က) | နိုင်ငံသားနှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | လီမိတက်ကုမ္ပဏီ (နောက်ဆက်တွဲ – ၁) |
| (ခ) | အဖွဲ့အစည်းနှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | – |
| (ဂ) | အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | – |

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန် –

| | | |
|---|---|---|
| (က) | တစ်ဦးတည်းပိုင် | – |
| (ခ) | အစုစပ်လုပ်ငန်း | – |
| (ဂ) | လီမိတက်ကုမ္ပဏီ | ခိုင် စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် **(KHINE INDUSTRIES CO., LTD.)** (နောက်ဆက်တွဲ – ၁) |
| (ဃ) | သမဝါယမအသင်း | – |

၆။ အစုစပ်လုပ်ငန်းပုံသဏ္ဌာန် ဖွဲ့စည်းလိုပါက–

(က) အစုဝင်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့်ပမာဏ–

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား –

(ဂ) အစုစပ်ဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ–

၇။ လီမိတက်ကုမ္ပဏီ ဖွဲ့စည်းလိုပါက–

| | | |
|---|---|---|
| (က) | ခွင့်ပြုမတည်ငွေရင်း | ကျပ် ၅၀၀ ၀၀၀ ၀၀၀ (ကျပ်ငါးရာသန်း) |
| (ခ) | အစုရှယ်ယာအမျိုးအစား | ကျပ် ၁၀ ၀၀၀ တန် သာမန်အစုရှယ်ယာ ၅၀ ၀၀၀ |
| (ဂ) | အစုရှယ်ယာရှင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ | ကျပ် ၁၀၀ ၀၀၀ ၀၀၀ (ကျပ် သန်းတစ်ရာ) ကျပ် ၁၀ ၀၀၀တန် အစုရှယ်ယာ ၁၀ ၀၀၀ စု |

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ –

| | ကျပ် | အမေရိကန်ဒေါ်လာ (ထောင်ပေါင်း) |
|---|---|---|
| (က) မတည်ငွေရင်းပမာဏ ( ယခုအဆိုပြုလုပ်ငန်းအတွက် ) | | |
| (၁) ငွေပမာဏ – မြန်မာကျပ်ငွေဖြင့် | ၄၉ ၇၆၁ | |
| – အမေရိကန်ဒေါ်လာဖြင့် | ၂၅၀ | ၄၀ |
| (၂) အဆောက်အဦး (နောက်ဆက်တွဲ–၂) | ၅၀ ၀၀၀ | |
| (၃) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | – | |
| (၄) စက်ပစ္စည်းကိရိယာများ၊ (နောက်ဆက်တွဲ– ၃ က) | ၂ ၇၀၀ | ၄၅၀ |
| (၅) ကုန်ကြမ်းပစ္စည်းများ (နောက်ဆက်တွဲ – ၃ ခ) | ၆၀၀ | ၁၀၀ |
| (၆) မြေ | – | |
| စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | ၁၀၃ ၃၀၀ | ၅၉၀ |

| (ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့် – | ကျပ် (ထောင်ပေါင်း) | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ၏တန်ဖိုး | ၂ ၇၀၀ | ၄၅၀ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူပစ္စည်းတန်ဖိုး | ၆၀၀ | ၁၀၀ |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | – | – |
| | ၃ ၃၀၀ | ၅၅၀ |

(ဂ) တည်ဆောက်မှုကာလ — (၁၈) လ (စက်တပ်ဆင်မှုလုပ်ငန်းအတွက်ဖြစ်ပါသည်။)

(ဃ) ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ — (၃)လ

(င) တည်ဆောက်မှုစတင်မည့်အချိန် — မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့် ရရှိသည့်နေ့မှစတင်ဆောင်ရွက်သွားမည်။

၄။ ဆောင်ရွက်သွားမည့်စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ –

(က) လုပ်ငန်းအမျိုးအစား — သစ်အခြေခံ တဝက်တပျက်နှင့် အချောထည် ပရိဘောဂများ၊ ကြမ်းခင်းတုံးများထုတ်လုပ်ခြင်းလုပ်ငန်း (Manufacturing of wooden products)

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ — မြေကွက်အမှတ် (၄၂)၊ မြေတိုင်းရပ်ကွက်အမှတ် (၃) စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် — ခေတ်မီ ထုတ်လုပ်အချောကိုင်နည်းစနစ်

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်–

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| (၁) | ဒီဇယ်ဆီ | ၃၀၀၀၀ ဂါလံ |
| (၂) | ဓါတ်ဆီ | ၁၅၀၀၀ ဂါလံ |
| (၃) | စက်ဆီ၊ ချောဆီ | ၅၀၀ ဂါလံ |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်-

| | |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | MW ၀.၅ |
| ၂။ ဒီဇယ်ဆီအင်ဂျင်စက်အင်အား | မြင်းကောင်ရေ ၆၆၀ |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အင်အား | - |
| ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | |
| ၅။ ပေးပို့သည့်အခြားအား (ရေအား၊ လေအားစသည်များ) | - |

(စ) နှစ်စဉ်ရေလိုအပ်ချက် -

| | | |
|---|---|---|
| ၁။ တစ်နေ့ရေလိုအပ်ချက် | ဂါလံ | ၅ ၀၀၀ |
| ၂။ တစ်နှစ်ရေလိုအပ်ချက် | ဂါလံ(သန်း) | ၁.၅ |

| | | |
|---|---|---|
| (ဆ) | နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း၊ ကုန်ကြမ်းလိုအပ်ချက် | နောက်ဆက်တွဲဇယား - ၄ |
| (ဇ) | အဆောက်အဦလိုအပ်ချက် | ၈၀ မီတာ x ၃၀ မီတာ (၁)လုံး |
| (ဈ) | မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက် | ပုဂ္ဂလိကပိုင် စက်မှုလက်မှုမြေ ၂.၀၁၁ ဧက၊ (၈၁၃၈.၂၄) စတုရန်းမီတာ |
| (ည) | ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း၊ ဝန်ဆောင်မှု | နောက်ဆက်တွဲ - ၅ |
| (ဋ) | ရောင်းချမည့်နည်းစနစ် | ပြည်ပသို့ တင်ပို့ရောင်းချမှု ၇၀% |
| | | ပြည်တွင်း၌ကျပ်ငွေဖြင့်ရောင်းချမှု ၃၀ % |

၁၀။ နှစ်စဉ်ထုတ်လုပ်မှု၊ ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ -

| | | ခန့်မှန်းခြေ | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲ - ၆ | |
| (ခ) | လိုအပ်မည့်နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲ - ဂ | |
| (ဂ) | ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲ - ၅ | |
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း၊ ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲ - ၅ | |
| (င) | နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်ကုန်ပစ္စည်း၊ ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲ - ၅ | |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း-

| | |
|---|---|
| (က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ- | နောက်ဆက်တွဲ - ၇ |
| (ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ- | နောက်ဆက်တွဲ - ၇ |

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ-

| | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|
| (က) နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲ - ဂ | |
| (ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲ - ဂ | |
| (ဂ) နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲ - ဂ | |
| (ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲ - ၉ | |
| (င) အရင်းကြေကာလ | နောက်ဆက်တွဲ - ၁၀ | |
| (စ) အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲ - ၁၁၊ ၁၂ | |
| (ဆ) အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ | နောက်ဆက်တွဲ - ၇ | |

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်းသည့်အထောက်အထားများ-

အဆိုပြုတင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါအထောက်အထားများကို အခြေ အနေအထောက်အထားများ။

(က) ပဋိညာဉ်စာချုပ်မူကြမ်း

(ခ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများ

(ဂ) သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများ

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေ အနေအထောက်အထားများ။

(c) Deferred Payment Loan Agreement (Draft)

(စ) မြေငှားစာချုပ် (မူကြမ်း)

လက်မှတ် ။

အမည် ။ ဦးအောင်ခိုင်

ရာထူး ။ မန်နေးဂျင်းဒါရိုက်တာ

KHINE INDUSTRIES CO., LTD.



ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
**မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန**
အမှတ်၊ ၂၂၈-၂၃၄၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့။

စာအမှတ်၊ စီမံ/နဆစ/ပစလ-၁/(၁)/၉၉/( ၈၀၃ )
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ အောက်တိုဘာလ ၁၈ ရက်၊

သို့

တွဲဖက်အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

အကြောင်းအရာ။ <u>လုပ်ငန်းဆောင်ရွက်နေခြင်းရှိ/မရှိပြန်ကြားခြင်း၊</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၉-၉၉ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၄၅၂/၉၉(၅၁၉၇-၀)

ရန်ကုန်တိုင်း၊ လှိုင်သာယာစက်မှုဇုန်အပိုင်း (၃) မြေကွက်အမှတ် (၄၂) မြေဧရိယာ (၂.၀၁၁) ဧက ပေါ်တွင်၊ ခရစ်စတယ်လ်စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက်မှ (၁၅၀' × ၁၃၀') ခန့်ရှိစက်ရုံတည်ဆောက်ပြီး ဖြစ်သော်လည်း၊ လုပ်ငန်းဆောင်ရွက်နေခြင်းမရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ထွန်းလင်း - ဒုတိယညွှန်ကြားရေးမှူး)
နိုင်ငံခြားဆက်ဆံရေး၊

မိတ္တူကို - (၁) စီမံကိန်းမန်နေဂျာ၊ လှိုင်သာယာစက်မှုဇုန်၊
(၂) ရုံးလက်ခံ၊
(၃) မျှောစာတွဲ၊



**ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ**

**သစ်တောရေးရာ ဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

စာအမှတ်၊ ၂/၂၃၀(၀)(၄)/(၂၂၂၄ /၉၉)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ အောက်တိုဘာလ ၈ ရက်

အကြောင်းအရာ။ ခရစ်စတယ်လ်စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက်မှ စက်ရုံတည်ဆောက်ပြီး သစ်အခြေခံတစ်ဝက်တစ်ပျက်နှင့် အချောထည်ပရိဘောဂများ၊ ကြမ်းခင်းတိုးများ ထုတ်လုပ်သည့် လုပ်ငန်း ဆောင်ရွက်လိုခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၉-၉၉ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၄၅၂/၉၉ (၅၀၉၇"ဃ")

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြလျှောက်ထားလာသော ခရစ်စတယ်လ်စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက်မှ စက်ရုံတည်ဆောက်ပြီး၊ သစ်အခြေခံ တစ်ဝက်တစ်ပျက်နှင့်အချောထည်ပရိဘောဂများ၊ ကြမ်းခင်းတိုးများ ထုတ်လုပ်သည့်လုပ်ငန်း ဆောင်ရွက်လိုခြင်း ကိစ္စနှင့်ပတ်သက်၍၊ ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကိုပြန်ကြားအပ်ပါသည်။

၂။ သစ်တောရေးရာဝန်ကြီးဌာန၊ မြန်မာ့သစ်လုပ်ငန်းမှ ခရစ်စတယ်လ်စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက်မှ တာဝန်ရှိပုဂ္ဂိုလ်များနှင့် တွေ့ဆုံစိစစ်ချက်အရ၊ နှစ်စဉ်လိုအပ်သည့်ကုန်ကြမ်းဖြစ်သည့်ကျွန်းနှင့်သစ်မာ(၂)မျိုး ပေါင်းတန် (၉၀၀)ကိုအမေရိကန်ဒေါ်လာဖြင့်ဝယ်ယူသွားမည်ဖြစ်ကြောင်း၊ ရေဘာသစ်များကိုလည်း နှစ်စဉ်ပျမ်းမျှ(၃၅၀)တန် လိုအပ်မည်ဖြစ်ကြောင်းနှင့် ထွက်ရှိလာသောကုန်ချောများ၏(၇၀%)ကိုပြည်ပသို့တင်ပို့ပြီး ကျန်(၃၀%)ကိုပြည်တွင်းတွင်ဖြန့်ဖြူး ရောင်းချသွားမည်ဖြစ်ကြောင်း သိရှိရပါသည်။

၃။ သို့ရာတွင်သစ်တောရေးရာဝန်ကြီးဌာန၊ မြန်မာ့သစ်လုပ်ငန်းအနေဖြင့်သစ်အခြေခံလုပ်ငန်းများ၌ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်ကုမ္ပဏီများသို့ ကျွန်း သစ်လုံးများကိုအမေရိကန်ဒေါ်လာဖြင့်သာတင်ဒါဈေးပြိုင်အတိုင်းရောင်းချ

ပေးပြီး တရားဝင်လမ်းကြောင်းများမှ မြန်မာကျပ်ငွေဖြင့် ဝယ်ယူရရှိထားသည့် သစ်မာသစ်လုံး ကုန်ကြမ်းများမှ ထွက်ရှိသော ကုန်ချောပစ္စည်းများအား ပြည်ပသို့တင်ပို့ရောင်းချလိုပါက ရောင်းရသည့်နိုင်ငံခြားငွေ၏ (၁၀% ) ကို နိုင်ငံတော် ( မြန်မာ့သစ်လုပ်ငန်း ) သို့ ပေးသွင်းပြီးမှသာ တင်ပို့ခွင့်ပြုသည့် "မူ" သတ်မှတ်ထားပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားလာသည့် ခရစ်စတယ်လ်စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက်မှ စက်ရုံတည်ဆောက်၍ သစ်အခြေခံတန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရှိခြင်းအပေါ် အထက်ဖော်ပြပါ သစ်တောရေးရာဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် "မူ" ဘောင်အတွင်းမှ ဆောင်ရွက်သွားမည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး ( ကိုယ်စား )

( ဘချို ၊ ရုံးအဖွဲ့မှူး )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူ - မြန်မာ့သစ်လုပ်ငန်း

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်**
အမှတ်၊ ၆၂၂၊ ကုန်သည်လမ်း၊ (ဒုတိယထပ်) ရန်ကုန်မြို့။

စာအမှတ်၊ ၁၀/၄/စက-၁/၉၉(မတည်)(၅၈၅)၂
နေ့စွဲ၊ ၁၉၉၉ ခုနှစ်၊ နိုဝင်ဘာလ( ၁၁ )ရက်

အမှာစာ

အကြောင်းအရာ။ ။ခရစ်စတယ်လ်ဂါးမင့်အင်န်နစ်တင်းအင်ဒတ်စ်စရီ ကုမ္ပဏီလီမိတက် ( KRYSTAL GARMENT & KNITTING INDUSTRY CO., LTD. ) မှလုပ်ငန်းဆောင်ရွက်ရန်ထုတ်ပေးထားသည့် ခွင့်ပြုမိန့်အားပြန်လည်အပ်နှံခွင့်ပြုပါရန် လျှောက်ထားခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၁၀-၉၉ နေ့စွဲပါ စာအမှတ်၊ ရက-၁ / မ - ၁၆၉ / ၉၉ (၆၂၃၃)

၁။ အထက်ဖော်ပြပါ အကြောင်းအရာနှင့်ပတ်သက်၍ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်ဥက္ကဋ္ဌမှ ခရစ်စတယ်လ်ဂါးမင်အင်န်နစ်တင်းအင်ဒတ်စ်စရီ ကုမ္ပဏီလီမိတက် ( KRYSTAL GARMENT & KNITTING INDUSTRY CO., LTD. ) မှ GENERAL MANAGER ဦးသစ်လွင်၊ မန်နေဂျာ ဦးမေအောင်တို့အား (၉-၁၁-၉၉) ရက်နေ့တွင် ခေါ်ယူ၍တွေ့ဆုံခဲ့ပါသည်။ ခရစ်စတယ်လ်ဂါးမင်အင်န်နစ်တင်းအင်ဒတ်စ်စရီကုမ္ပဏီလီမိတက် မှ Garment Manager မှကုမ္ပဏီအနေဖြင့် Garment လုပ်ငန်းဆောင်ရွက်ရန် မလေးရှားနိုင်ငံမှကုမ္ပဏီလုပ်ငန်းရှင်များနှင့် ဆက်သွယ်၍ ဆောင်ရွက်ခဲ့သော်လည်း စီးပွားရေးကျဆင်းမှုကြောင့် အမှာစာများရပ်ဆိုင်းခဲ့သဖြင့် Garment လုပ်ငန်းဆောင်ရွက်ရန် အဆင်ပြေမှုမရှိခဲ့ပါကြောင်း၊ ယခုအခါစင်္ကာပူနိုင်ငံမှ ကုမ္ပဏီလုပ်ငန်းရှင်များနှင့်ဆက်သွယ်၍ သစ်အခြေခံသို့ပြောင်းလဲဆောင်ရွက်လိုခြင်းဖြစ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ခွင့်ပြုမိန့်(မူရင်း) မော်တော်ယာဉ်တင်သွင်းခွင့်စာနှင့် Deferred Payment Loan Agreement မူရင်းတို့ကို ပြန်လည်အပ်နှံပြီးဖြစ်ပါကြောင်း၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်နှင့်ဆက်သွယ်၍ ဆောက်လုပ်ရေးပစ္စည်း၊ Machinery & Equipment, Vehicle, Raw Materials များကို တင်သွင်းရန် ထောက်ခံချက်ရယူခဲ့ခြင်းမရှိပါကြောင်း လာရောက်ရှင်းလင်း ပြောကြားခဲ့ပါသည်။

၂။ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ် အနေဖြင့်လည်း (၉-၁၁-၉၉)ရက်နေ့တွင် ဦးစီးအရာရှိဦးမြင့်ငွေအား ခရစ်စတယ်ဂါးမင်အင်န်နစ်တင်းအင်ဒတ်စ်စရီကုမ္ပဏီ၏စက်ရုံအဆောက်အဦးအား သွားရောက်စစ်ဆေးခဲ့ပါသည်။ စက်ရုံစစ်ဆေးမှုမှတ်တမ်းအား နောက်ဆက်တွဲ(က)ဖြင့် ဖော်ပြအပ်ပါသည်။ ဤရုံးရှိအထောက်အထားစာရွက်စာတမ်းများအရ၊ အဆိုပါကုမ္ပဏီအနေဖြင့် ဆောက်လုပ်ရေးပစ္စည်း၊ Machineries & Equipments, Vehicles, Raw Materials များတင်သွင်းခဲ့ခြင်းမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

လျှို့ဝှက်

၃။ သို့ဖြစ်၍ ခရစ်စတယ်လ်ဂါးမင်အင်န်နစ်တင်းအင်ဒတ်စ်စရီကုမ္ပဏီလီမိတက်အနေဖြင့် နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်ထံမှ မော်တော်ယာဉ်နှင့် စက်ပစ္စည်းကိရိယာများ၊ ကုန်ကြမ်းများတင်သွင်းရန် ထောက်ခံချက်ရယူထားခြင်းမရှိကြောင်းနှင့် နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်နှင့်ဆက်သွယ်၍ လုပ်ငန်းများဆောင်ရွက်ခဲ့ခြင်းမရှိခဲ့သေးကြောင်း တင်ပြအပ်ပါသည်။

5/11/88

ဥက္ကဋ္ဌ
(တင်လှိုင်၊ညွှန်ကြားရေးမှူးချုပ်)

အတွင်းရေးမှူး၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။
မိတ္တူကို–၁။လက်ခံ။
၂။မျှော၊

နောက်ဆက်တွဲ(က)

- ကုမ္ပဏီအမည် ခရစ်စတယ်လ်ဂါးမင်းအင်န်နစ်တင်းအင်ဒတ်စ်စရီကုမ္ပဏီလီမိတက်
- ရင်းနှီးမြှုပ်နှံသူ ဦးအောင်ခိုင်
- လုပ်ငန်းအမျိုးအစား အထည်ချုပ်နှင့်သိုးမွေးထည်ယက်လုပ်ခြင်းလုပ်ငန်း
- လုပ်ငန်းတည်နေရာ ၄၂၊ ဗမော်အတွင်းဝန်လမ်း
- အဆောက်အဦးပြီးစီးမှုရာခိုင်နှုန်း ၁၀၀ %

| စဉ် | ပစ္စည်းအမျိုးအမည် | MIC ခွင့်ပြု | F C E C ထောက်ခံ | တင်သွင်းပြီး | % | မှတ်ချက် |
|---|---|---|---|---|---|---|
| | MACHINERIES | | | | | |
| 1. | Single Needle Lock Stich Machine | 240 | | | | |
| 2. | Single Needle Lock Stitch Machine With Edge Trimmer | 10 | | | | |
| 3. | Double Needle Lock Stich With Needle Organized Split Needle. | 10 | | | | |
| 4. | Double Needle, Needle Feed Lock Stitch Machine. | 30 | | | | |
| 5. | Two Needle Overlick Sewing Machine | 10 | | | | |
| 6. | Two Needle Sacety Lock Sewing Machine | 12 | | | | |
| 7. | Three Needle Interlock Sewing With Cylinder Bed. | 4 | | | | |
| 8. | Single Needle Feed Lock Stitch Machine | 10 | | | | |
| 9. | Single Needle Bar Tracking Machine | 4 | | | | |
| 10. | Two Thread Chain Stitch Button Hole Machine | 2 | | | | |
| 11. | Single Needle Button Hole Sewing M/C | 2 | | | | |
| 12. | Single Needle Chain Stitch Button Sewing M/C Witch Automatic Thread Trimmer | 5 | | | | |
| 13. | Four Needle Double Chain Stitch Flat Bed Sewing Machine | 2 | | | | |

နောက်ဆက်တွဲ(က)

- ကုမ္ပဏီအမည် ခရစ်စတယ်လ်ဂါးမင်အင်န်နစ်တင်းအင်ဒတ်စ်စရီကုမ္ပဏီလီမိတက်
- ရင်းနှီးမြှုပ်နှံသူ ဦးအောင်ခိုင်
- လုပ်ငန်းအမျိုးအစား အထည်ချုပ်နှင့်သိုးမွှေးထည်ယက်လုပ်ခြင်းလုပ်ငန်း
- လုပ်ငန်းတည်နေရာ ၄၂၊ ဗမော်အတွင်းဝန်လမ်း
- အဆောက်အဦပြီးစီးမှုရာခိုင်နှုန်း ၁၀၀%

| စဉ် | ပစ္စည်းအမျိုးအမည် | MIC ခွင့်ပြု | FCEC ထောက်ခံ | တင်သွင်းပြီး | % | မှတ်ချက် |
|---|---|---|---|---|---|---|
| 14. | One Needle, Two Thread Zip-Zag Sewing Machine | 2 | - | | | |
| 15. | Snap Fastening M/C with two Head | 2 | - | | | |
| 16. | 3.5 G Flat Knitting M/C | 100 | - | | | |
| 17. | 7 GG Flat Knitting M/C | 30 | - | | | |
| 18. | 12 GG Flat Knitting M/C | 30 | - | | | |
| 19. | Linking M/C 8 GG | 43 | - | | | |
| 20. | 5 GG Flat Knitting M/C | 35 | - | | | |
| 21. | Linking M/C 14 GG | 11 | - | | | |
| 22. | Linking M/C 6 GG | 28 | - | | | |
| 23. | Linking M/C 5 GG | 8 | - | | | |
| 24. | Spinning M/C | 32 | - | | | |
| 25. | Juki MB-372 Button Sewing M/C | 7 | - | | | |
| 26. | Brother Sewing M/C | 10 | - | | | |
| 27. | Frankun Double Needle Sewing M/C | 1 | - | | | |
| 28. | Sream Iron | 16 | - | | | |
| 29. | Automatic Washer | 2 | - | | | |
| 30 | Tumber Dryer | 3 | - | | | |
| 31. | Extractor | 2 | - | | | |
| 32. | Dryer | 5 | - | | | |
| 33. | Packing Machine | 4 | - | | | |

cabinet
၁၃.၂

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# ခိုင် စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက်



PROPOSAL OF THE INVESTOR TO MAKE
MYANMAR CITIZENS INVESTMENT IN THE
UNION OF MYANMAR

## KHINE INDUSTRIES COMPANY LIMITED

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၂၀၀၀ပြည့်နှစ်၊ ဇန်နဝါရီလ( ၁၂ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။

အထက်ပါ အကြောင်းအရာနှင့် ပက်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ KHINE INDUSTRIES CO., LTD. သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ် ဇုန်(၃)၊ မြေကွက်အမှတ် (၄၂)ရှိ ၂.၀၁၁ဧက (၈၁၃၈.၂၄စတုရန်းမီတာ) ကျယ်ဝန်းသောမြေနေရာပေါ်ရှိ ၈၀မီတာ × ၃၀မီတာ အဆောက်အဦးအသစ် (တည်ဆောက်ပြီး)တွင် သစ်အခြေခံပရိဘောဂစက်ရုံ (Wooden Furniture Factory )တည်ထောင်ပြီး အဓိကအားဖြင့် ပြည်ပသို့တင်ပို့ ရောင်းချရန် ရုံးသုံး၊ အိမ်သုံး၊ ဥယျာဉ်၊ ဟိုတယ်နှင့် စားသောက်ဆိုင်သုံးပရိဘောဂ အမျိုးမျိုးများ၊ တန်ဖိုးမြင့် သစ်အချောထည်များ၊ ကြမ်းခင်းတုံးများ၊ တဝက်တပျက် အချောကိုင်ပြီးသော ပရိဘောဂနှင့် သစ်အခြေခံပစ္စည်းများကို ခေတ်မီနည်းပညာများ၊ စက်ပစ္စည်းကိရိယာများဖြင့်ထုတ်လုပ်ခွင့်ရရှိလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထား အပ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရသို့ ဆက်လက်တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာ ( ၂၂ ) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

U Aung Khine
Managing Director
Khine Industries Co., Ltd.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၉ခုနှစ်၊ နိုဝင်ဘာလ( ၂၅ )ရက်။

**အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။**

အထက်ပါ အကြောင်းအရာနှင့် ပက်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ KHINE INDUSTRIES CO., LTD. သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ဇုန်(၃)၊ မြေကွက်အမှတ် (၄၂)ရှိ ၂.၀၁၁ဧက (၈၁၃၈.၂၄ စတုရန်းမီတာ) ကျယ်ဝန်းသောမြေနေရာပေါ်ရှိ ၈၀မီတာ × ၃၀မီတာ အဆောက်အဦအသစ်(တည်ဆောက်ပြီး)တွင် သစ်အခြေခံပရိဘောဂစက်ရုံ ( WOODEN FURNITURE FACTORY ) တည်ထောင်ပြီး အဓိကအားဖြင့် ပြည်ပသို့ တင်ပို့ ရောင်းချရန် ရုံးသုံး၊ အိမ်သုံး၊ ဥယျာဉ်၊ ဟိုတယ်နှင့်စားသောက်ဆိုင်သုံးပရိဘောဂအမျိုးမျိုးများ၊ တန်ဖိုးမြှင့် သစ်အချောထည်များ၊ ကြမ်းခင်းတုံးများ၊ တဝက်တပျက် အချောကိုင်ပြီးသော ပရိဘောဂနှင့် သစ်အခြေခံပစ္စည်းများကို ခေတ်မီနည်းပညာများ၊ စက်ပစ္စည်းကိရိယာများဖြင့်ထုတ်လုပ်ခွင့်ရရှိလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စိစစ်ဆောင်ရွက်ပေးနိုင်ရန် အဆိုပြုလွှာ ( ၁၆ ) စုံကို ပူးတွဲများနှင့်အတူ ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( အောင်ခိုင် )
(မန်နေးဂျင်းဒါရိုက်တာ)

KHINE INDUSTRIES CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၉ခုနှစ်၊ စက်တင်ဘာလ၊ ( ၇ )ရက်၊

**အကြောင်းအရာ ။ ။ ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ(၁၂)နှင့်(၁၃)တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ အထက်ပါ အကြောင်းအရာနှင့် ပက်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ KHINE INDUSTRIES CO., LTD. သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ဇုန်(၃)၊ မြေကွက်အမှတ် (၄၂)ရှိ ၂.၀၁၁ဧက (၈၁၃၈.၂၄ စတုရန်းမီတာ) ကျယ်ဝန်းသောမြေနေရာပေါ်ရှိ ၈၀မီတာ × ၃၀မီတာ အဆောက်အဦအသစ်(တည်ဆောက်ပြီး)တွင် သစ်အခြေခံပရိဘောဂစက်ရုံ ( WOODEN FURNITURE FACTORY ) တည်ထောင်ပြီး အဓိကအားဖြင့် ပြည်ပသို့တင်ပို့ရန် ရုံးသုံး၊ အိမ်သုံး၊ ဥယျာဉ်၊ ဟိုတယ်နှင့် စားသောက်ဆိုင်သုံး ပရိဘောဂအမျိုးမျိုးများ၊ တန်ဖိုးမြင့် သစ်အချောထည်များ၊ ကြမ်းခင်းတုံးများ၊ တဝက်တပျက် အချောကိုင်ပြီးသော ပရိဘောဂနှင့် သစ်အခြေခံပစ္စည်းများကို ခေတ်မီနည်းပညာများ၊ စက်ပစ္စည်းကိရိယာများဖြင့် ထုတ်လုပ်ခွင့်ရရှိလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်တို့ကုမ္ပဏီသည် စင်ကာပူနိုင်ငံရှိ ATLAS 2000 PTE LTD.မှ အမေရိကန်ဒေါ်လာ ၅.၅ သိန်းဖိုးရှိ စက်ပစ္စည်းကိရိယာများ၊ လုပ်ငန်းသုံးပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းကို ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ် (DEFERRED PAYMENT SYSTEM)ဖြင့် ၄ နှစ်အတွင်း ပြန်လည်ပေးဆပ်ရန် ၅ ရာခိုင်နှုန်း အတိုးဖြင့် ဝယ်ယူတင်သွင်းမည်ဖြစ်ပါသည်။

၃။ ကျွန်တော်တို့ ကုမ္ပဏီလီမိတက်အနေဖြင့် ကျပ် သန်း ၁၀၀ ကို မြန်မာကျပ်ငွေ၊ အမေရိကန်ဒေါ်လာ၊ အဆောက်အဦးများဖြင့် ထည့်ဝင် ရင်းနှီးမြှုပ်နှံကြမည်ဖြစ်ပါသည်။ လုပ်ငန်း လုပ်ကိုင်၍ ရရှိလာသောအမြတ်ငွေများကိုလည်း၊ မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် လုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၉ခုနှစ်၊ စက်တင်ဘာလ( ၇ )ရက်၊

**အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်း နှင့်ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။**

အထက်ပါ အကြောင်းအရာနှင့် ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ KHINE INDUSTRIES CO., LTD. သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ဇုန်(၃)၊ မြေကွက်အမှတ် (၄၂)ရှိ ၂.၀၁၁ဧက (၈၁၃၇.၂၄ စတုရန်းမီတာ) ကျယ်ဝန်းသော မြေနေရာပေါ်ရှိ ၈၀မီတာ × ၃၀မီတာ အဆောက်အဦအသစ်(တည်ဆောက်ပြီး)တွင် သစ်အခြေခံပရိဘောဂစက်ရုံ ( WOODEN FURNITURE FACTORY ) တည်ထောင်ပြီး အဓိကအားဖြင့် ပြည်ပသို့ တင်ပို့ရောင်းချရန် ရုံးသုံး၊ အိမ်သုံး၊ ဥယျာဉ်၊ ဟိုတယ်နှင့်စားသောက်ဆိုင်သုံးပရိဘောဂအမျိုးမျိုးများ၊ တန်ဖိုးမြင့် သစ်အချောထည်များ၊ ကြမ်းခင်းတုံးများ၊ တပ်ဆင်ရန်အချောကိုင်ပြီးသော ပရိဘောဂနှင့် သစ်အခြေခံပစ္စည်းများကို ခေတ်မီနည်းပညာများ၊ စက်ပစ္စည်းကိရိယာများဖြင့်ထုတ်လုပ်ခွင့်ရရှိလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

ဤလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

၁။ ကျွန်တော်တို့၏ KHINE INDUSTRIES CO., LTD. နှင့် အဆိုပြုသော စက်ရုံသည် မြန်မာနိုင်ငံသားများသာ ပိုင်ဆိုင်ပြီး အခြားမည်သည့် နိုင်ငံခြားသားမျှ ပိုင်ဆိုင်ခြင်းမရှိပါ။

၂။ မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြု ပါသည်။

၃။ အဆိုပြုစက်ရုံသည် စက်ပစ္စည်းကိရိယာအသစ်များဖြင့်သာ တည်ဆောက်မည့် နိုင်ငံတကာအဆင့်မီစက်ရုံဖြစ်ပြီး ပြည်ပပို့ကုန် အရည်အသွေးရှိ ပစ္စည်းများကိုသာ အဓိကထုတ်လုပ်မည်ဖြစ်ပါသည်။

၄။ အဆိုပြုစက်ရုံသည် ကျွန်တော်များကုမ္ပဏီ၏ စတင်လုပ်ကိုင်မည့် လုပ်ငန်းအသစ်ဖြစ်ပြီး၊ ထုတ်လုပ်မည့်ပစ္စည်းများမှာလည်း ပြည်ပသို့တင်ပို့ခြင်းအတွက် ဈေးကွက်ရှိပြီးဖြစ်ပါသည်။

၅။ ကျွန်တော်များကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် အဆိုပြု စက်ရုံကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ၊ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

( အောင်ခိုင် )
(မန်နေးဂျင်းဒါရိုက်တာ)
KHINE INDUSTRIES CO., LTD.

